အကြောင်းအရာ။ **ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် De Heus Myanmar Limited မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - De Heus Myanmar Limited |
| | ကမကထပြုသူ | - Mr. Jacobus Johannes de Heus |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>De Heus Myanmar B.V မှ ၉၉.၉၉၉၇ % (နယ်သာလန်)<br>De Heus Animal Nutrition B.V မှ ၀.၀၀၀၃ % (နယ်သာလန်) |
| | လုပ်ငန်းအမျိုးအစား | - တိရစ္ဆာန် အစားအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- LG- ၃- ၂ နှင့် LG- ၆- ၂၊ ထောက်ပံ့ပို့ဆောင်ရေးဘလောက်၊ ဖုန် ၁ အေ၊ မြို့သာစက်မှုဥယျာဉ်၊ ငါန်းဇွန်မြို့နယ်၊ မြင်းခြံခရိုင်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - မန္တလေးမြို့သာစက်မှုဖွံ့ဖြိုးရေးအများပိုင်ကုမ္ပဏီလီမိတက် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၆.၅ ဧက ( ၂၆၃၄၂.၀၀ စတုရန်းမီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၀.၄၂၈၆ နှုန်းဖြင့် ၂၆၃၄၂.၀၀ စတုရန်းမီတာအတွက် US$ ၁၁၂၈၉.၄၃ |
| | မြေငှားရမ်းကာလ | - ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်း မတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၁၄.၅၉၉ သန်း (ချေးငွေ အမေရိကန်ဒေါ်လာ ၇.၂၉၉၅ သန်းအပါအဝင်) |

(US$ သန်း)

| | | |
|---|---|---|
| (က) | စက်ပစ္စည်း၊ စက်ကိရိယာများ | ၅.၉၅၄၅ |
| (ခ) | စက်ပစ္စည်း၊ စက်ကိရိယာများ(ချေးငွေ) | ၀.၂၉၉၅ |
| (ဂ) | အဆောက်အဦး တန်ဖိုးများ | ၁.၃၀၀ |
| (ဃ) | အင်ဂျင်နီယာ ဝန်ဆောင်မှု(ချေးငွေ) | ၀.၃၀၀ |
| (င) | စက်ကိရိယာတပ်ဆင်ခြင်းဝန်ဆောင်မှု (ချေးငွေ) | ၁.၀၀၀ |
| (စ) | အလိုအလျောက် စက်ကိရိယာများနှင့် အခြား (ချေးငွေ) | ၀.၉၀၀ |
| (ဆ) | အခြား (မြေငှားရမ်းခအပါအဝင်) (ချေးငွေ) | ၄.၈၀၀ |
| (ဇ) | အခြား | ၀.၀၄၅ |
| | စုစုပေါင်း | ၁၄.၅၉၉ |

<table>
<tr><td>၆။</td><td>ဝန်ထမ်းအင်အား</td><td>- ၉၁ ဦး</td></tr>
<tr><td></td><td>ပြည်တွင်း</td><td>- ၉၀ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၂၈၁,၆၆၇ နှင့် အမြင့်ဆုံးလစာ ကျပ် ၁,၈၄၁,၆၆၇ ဖြစ်ပါသည်။)</td></tr>
<tr><td></td><td>ပြည်ပ</td><td>- ၁ ဦး(လစာမှာ US$ ၂,၄၃၈ ဖြစ်ပါသည်။)</td></tr>
<tr><td>၇။</td><td>ရောင်းချမည့်စနစ်<br>နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၈)နှစ်မြောက်</td><td>- ၁၀၀% ပြည်တွင်းရောင်း
<table>
<tr><th>စဉ်</th><th>ပစ္စည်း အမျိုးအစား</th><th>အရေအတွက် (MT)</th><th>ရောင်းချမည့် ဈေးနှုန်း (US$/MT)</th></tr>
<tr><td>(က)</td><td>Broiler feed</td><td>၉၆,၀၀၀</td><td>၄၀၄.၀၀</td></tr>
<tr><td>(ခ)</td><td>Layer feed</td><td>၄၀,၀၀၀</td><td>၄၂၅.၀၀</td></tr>
<tr><td>(ဂ)</td><td>Swine feed</td><td>၁၆,၀၀၀</td><td>၅၂၅.၀၀</td></tr>
<tr><td>(ဃ)</td><td>Ruminant feed</td><td>၈,၅၀၀၀</td><td>၃၄၅.၀၀</td></tr>
</table></td></tr>
<tr><td>၈။</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)</td><td>- ၃,၇၀၀,၀၀၀ kWh</td></tr>
<tr><td>၉။</td><td>အခြားတင်ပြချက်</td><td>- De Heus Myanmar Limited ၏ MOA, AOA တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ နိုင်ငံကူး လက်မှတ်မိတ္တူများ တင်ပြထားပါသည်။<br>- မန္တလေးမြို့သာစက်မှုဖွံ့ဖြိုးရေးအများပိုင်ကုမ္ပဏီလီမိတက် နှင့် De Heus Myanmar Limited တို့ ချုပ်ဆိုထားသော မြေငှားရမ်းခြင်း သဘောတူစာချုပ်၊ အဆောက်အဦ Master Plan နှင့် Layout Plan ကို တင်ပြထားပါသည်။<br>- De Heus Myanmar Limited အမည်ဖြင့် OCBC Bank (ရန်ကုန်)တွင် ၂၁-၇-၂၀၁၇ ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၅,၂၃၁,၉၄၆.၁၉ နှင့် EUR ၅၉,၀၅၅.၄၀ (အမေရိကန်ဒေါ်လာ ၆၅၅၅၁.၄၉၄)ရှိကြောင်းနှင့် De Heus Animal Nutrition B.V ၏ ၃၁-၃-၂၀၁၇ ရက်စွဲပါ Financial Statements တင်ပြထား ပါသည်။</td></tr>
</table>

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - De Heus Myanmar Limited မှ အဆိုပြုလုပ်ငန်း အတွက် နယ်သာလန်နိုင်ငံ De Heus Animal Nutrition B.V မှ ချေးငွေ အမေရိကန်ဒေါ်လာ ၇.၂၉၉၅ သန်းအား ချေးယူမည်ဖြစ်ပြီး ချေးငွေစာချုပ် (မူကြမ်း)တင်ပြထား ပါသည်။<br>- De Heus Animal Nutrition B.V ၏ Financial report 2016 တင်ပြထားပါသည်။<br>- မီးဘေး ကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်း ရေးစီမံချက်၊ ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ပုံအဆင့်ဆင့် တင်ပြ ထားပါသည်။<br>- ပြည်ပမှ တင်သွင်းမည့် ကုန်ကြမ်းစာရင်းတင်ပြထားပါသည်။<br>- De Heus Myanmar Limited မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ BOD Resolutions နှင့် Power of Attorney တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ အဆိုပြုလုပ်ငန်း ဆောင်ရွက် ရန်အတွက် နယ်သာလန်နိုင်ငံ De Heus Animal Nutrition B.V မှ ချေးငွေ အမေရိကန်ဒေါ်လာ ၇.၂၉၉၅ သန်းအား ချေးယူ ခြင်းအပေါ် ခွင့်ပြုနိုင်ပါကြောင်းသဘောထား ပြန်ကြားထား ပါသည်။<br>- De Heus Myanmar Limited သည် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်အမှတ်၊ ၁၀၄၄/၂၀၁၅ ဖြင့် ရန်ကုန်တိုင်းဒေသကြီးတွင် တိရစ္ဆာန် အစားအစာ ထုတ်လုပ် ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်လျက် ရှိပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆ တွင် အကျုံးဝင်ပါသဖြင့် ခွင့်ပြုမိန့်ရယူ ဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-၁၀၈၀ တွင် အကျုံးဝင် ပါသည်။<br>- ကုမ္ပဏီမှ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားလွှာ (ပုံစံ-၆)နှင့် မြေအသုံးပြုခွင့် (ပုံစံ ၇-က) တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ ခ-၀၀၇/ ၂၀၁၇( ၁၆၇ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၁၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် De Heus Myanmar Limited မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ နယ်သာလန်နိုင်ငံ De Heus Myanmar B.V မှ ၉၉.၉၉၉၇ % နှင့် De Heus Animal Nutrition B.V မှ ၀.၀၀၀၃ % အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် De Heus Myanmar Limited တည်ထောင်ပြီး မန္တလေးတိုင်း ဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာစက်မှုဇုန်၊ ဇုန် ၁ အေ၊ ထောက်ပံ့ပို့ဆောင်ရေး ဘလောက်၊ မြေကွက်အမှတ်- LG-၃-၂ နှင့် LG-၆-၂ ရှိ စုစုပေါင်းမြေဧရိယာ ၆.၅ ဧကကို ငှားရမ်း၍ တိရစ္ဆာန် အစားအစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် မန္တလေးမြို့သာစက်မှုဖွံ့ဖြိုးရေးအများပိုင်ကုမ္ပဏီလီမိတက် နှင့် မြေငှားသူ De Heus Myanmar Limited တို့ ချုပ်ဆိုထားသော မြေငှားစာချုပ်၊ အဆောက်အဦ Master Plan နှင့် Layout Plan တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပါသည်။ မြေအကျယ်အဝန်းမှာ စုစုပေါင်းမြေဧရိယာ ၆.၅ ဧက(၂၆၃၄၂.၀၀ စတုရန်းမီတာ) ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၀.၄၂၈၆ နှုန်းဖြင့် ၂၆၃၄၂.၀၀ စတုရန်း မီတာ အတွက် US$ ၁၁၂၉၉.၄၃ ဖြစ်ပါသည်။ လုပ်ငန်းစီမံကိန်း ကာလမှာကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ်၂ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၂ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁၄.၅၉၉ သန်း (ချေးငွေအမေရိကန် ဒေါ်လာ ၇.၂၉၉၅ သန်းအပါအဝင်)ဖြစ်ပြီး ထည့်ဝင်မှုမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | (US$ သန်း) |
|---|---|---|
| (က) | စက်ပစ္စည်း၊ စက်ကိရိယာများ | ၅.၉၅၄၅ |
| (ခ) | စက်ပစ္စည်း၊ စက်ကိရိယာများ(ချေးငွေ) | ၀.၂၉၉၅ |
| (ဂ) | အဆောက်အဦး တန်ဖိုးများ | ၁.၃၀၀ |

| | | |
|---|---|---|
| (ဃ) | အင်ဂျင်နီယာ ဝန်ဆောင်မှု(ချေးငွေ) | ၁.၃၀၀ |
| (င) | စက်ကိရိယာတပ်ဆင်ခြင်းဝန်ဆောင်မှု(ချေးငွေ) | ၁.၀၀၀ |
| (စ) | အလိုအလျောက်စက်ကိရိယာများနှင့်အခြား (ချေးငွေ) | ၀.၉၀၀ |
| (ဆ) | အခြား (မြေငှားရမ်းခအပါအဝင်) (ချေးငွေ) | ၄.၈၀၀ |
| (ဇ) | အခြား | ၀.၀၄၅ |
| | **စုစုပေါင်း** | **၁၄.၅၉၉** |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၉၀ ဦးနှင့် ပြည်ပဝန်ထမ်း ၁ ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၉၁ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၈၁,၆၆၇ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၄၁,၆၆၇ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၂,၄၃၈ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်တွင်း၌ ရောင်းချမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (အဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|
| (က) | Broiler feed | ၉၆,၀၀၀ | ၄၀၄.၀၀ |
| (ခ) | Layer feed | ၄၀,၀၀၀ | ၄၂၅.၀၀ |
| (ဂ) | Swine feed | ၁၆,၀၀၀ | ၅၂၅.၀၀ |
| (ဃ) | Ruminant feed | ၈,၅၀၀၀ | ၃၄၅.၀၀ |

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန**မှ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကိုဆောင် ရွက်ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **မြန်မာနိုင်ငံတော်ဗဟိုဘဏ်**မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် နယ်သာလန် နိုင်ငံ De Heus Animal Nutrition B.V မှ ချေးငွေ အမေရိကန်ဒေါ်လာ ၇.၂၉၉၅ သန်း အား ချေးယူခြင်းအပေါ် ခွင့်ပြုနိုင်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။
**နောက်ဆက်တွဲ(ခ)**

၈။ ငွေရေးကြေးရေး အထောက်အထားအဖြစ် De Heus Myanmar Limited အမည်ဖြင့် OCBC Bank (ရန်ကုန်)တွင် ၂၁-၇-၂၀၁၇ ရက်နေ့အထိ အမေရိကန် ဒေါ်လာ ၅,၂၃၁,၉၄၆.၁၉ နှင့် EUR ၅၉,၀၅၅.၄၀ (အမေရိကန် ဒေါ်လာ ၆၅၅၅၁.၄၉၄) ရှိကြောင်းနှင့် De Heus Animal Nutrition B.V ၏ ၃၁-၃-၂၀၁၇ ရက်စွဲပါ Financial Statements တင်ပြထားပါသည်။

၉။ De Heus Myanmar Limited မှ မီးဘေး ကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်၊ ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၀။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏၂၀၁၇ ခုနှစ် စက်တင်ဘာလ ၄ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၂/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆ အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင်ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

(ခ) ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဂ) De Heus Myanmar Limited သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်အမှတ်၊ ၁၀၄၄/၂၀၁၅ ဖြင့် ရန်ကုန်တိုင်းဒေသကြီးတွင် တိရစ္ဆာန် အစာအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ De Heus Myanmar Limited မှ တိရစ္ဆာန်အစာအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# De Heus Myanmar Limited ၏
# ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **De Heus Myanmar Limited** | De Heus Myanmar B.V Represented by | |
| | | (a) Mr. Jacobus Johannes De Heus<br>Dutch<br>PP. No. BJKRBKB 29<br>Managing Director | Hertog Hendriklaan 13a, 3743 DL Baarn, The Netherlands |
| | | De Heus Animal Nutrition B.V Represented by | |
| | | (b) Mr. Marcus Leonardus van der Kwaak<br>Dutch<br>PP. No. BM83224K8<br>Director | Petrarcalaan 40, 3533 CT UTRECHT, The Netherlands |
| | | (c) Mr. Johan Christiaan van den Ban<br>Dutch<br>PP. No.BF8F5JFR5<br>Director | No. FG 86, Ngwe Hnin Phyu Thit Khwa Street, Qtr 4, Hlaing Tharyar Township, Yangon |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၅၁၅၉၈၁၊ ၀၁-၁၂၂၂၇၉၅

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးပြည့်ဖြိုးကျော်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - တိရစ္ဆာန် အစားအစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

နောက်ဆက်တွဲ-က

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁(၁၄၃၁၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၂၇ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **De Heus Myanmar Ltd. မှ တိရိစ္ဆာန်အစားအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၆-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ န-ထွေ/၂၀၁၇ (၄၇၉)

၁။ De Heus Myanmar Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာစက်မှုဇုန်၊ မြို့သာစက်မှုဥယျာဉ်၊ ထောက်ပံ့ ပို့ဆောင်ရေးဘလောက် ဇုံ- ၁(က)၊ မြေကွက်အမှတ်- LG-၃-၂ နှင့် LG-၆-၂ ရှိမြေဧက ၆.၅၁ ဧက (၂၆,၃၄၅.၀၃ စတုရန်းမီတာ) တွင် တိရိစ္ဆာန်အစားအစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်လိုကြောင်း စုံစမ်းမေးမြန်းလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအပိုဒ် ၃၁(က) အရ အကြောင်းပြန်ကြားနိုင်ရေးအတွက် စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ စုံစမ်းမေးမြန်းလာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင်အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်း မြေဧရိယာ (၂၆,၃၄၅.၀၃ စတုရန်းမီတာ) တွင် စုစုပေါင်း စတုရန်းမီတာ ၁၁၀၀၀ ရှိ (၇) ထပ်ပင်မအဆောက်အဦ (၁) လုံး၊ ရုံးခန်းအဆောက်အဦ (၁) လုံးနှင့် ဆက်စပ်အဆောက်အဦများ တည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် မက်ထရစ်တန် ၂၅၀ ခန့်နှင့် (၁၀) နှစ်အတွင်းမက်ထရစ်တန် (၄၄၄) ခန့်အထိ တိုးမြှင့်ထုတ်လုပ်သွားမည် ဖြစ်ကြောင်း၊

(ဃ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့်အမြတ်ငွေ၏ (၂%) ခန့်ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှထုတ်

ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော် ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) De Heus Myanmar Ltd. မှ တိရိစ္ဆာန်အစားအစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့်အဆောက်အဦ ဆောက်လုပ်ရန်အတွက်မြေသားပြုပြင်ဖော်ထုတ်ခြင်းကြောင့်ထွက်ရှိလာမည့် အမှုန့်၊ အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း၊

(ခ) အဆိုပြုစီမံကိန်းမှ တိရိစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် အသုံးပြုမည့် ကုန်ကြမ်းများမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်/အစိုင်အခဲများကို စနစ်တကျ စွန့်ပစ်ခြင်းမပြုပါက ပတ်ဝန်းကျင် ရေထုနှင့် မြေထုညစ်ညမ်းခြင်း၊

(ဂ) စက်ရုံမှထွက်ရှိမည့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့်လုပ်ငန်းသုံးစက်ပစ္စည်းများကြောင့် အသံဆူညံမှုဖြစ်ခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်စေနိုင်ခြင်း၊

(ဃ) အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများကို စနစ်တကျသိုလှောင်မှုမရှိပါက အနံ့အသက်များ ထွက်ရှိ၍ ပတ်ဝန်းကျင်ရှိ ပြည်သူများကို အနှောင့်အယှက်ဖြစ်ပေါ်စေနိုင်ခြင်း၊

(င) အဆိုပြုလုပ်ငန်းအတွက် အဆောက်အဦ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာတွင် အသုံးပြုသည့် ယာဉ်၊ ယန္တရားများမှ စက်သုံးဆီနှင့် အခြားစက်ချောဆီများ ယိုဖိတ်ခြင်း၊ အသံဆူညံခြင်း၊ ဖုန်မှုန့်များ၊ အမှုန့်အမွှား၊ အခိုးအငွေ့များ ထွက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ရှိ လေထု၊ မြေထု ညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ De Heus Myanmar Ltd. မှ တိရိစ္ဆာန်အစားအစာထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသောနယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါ အချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဈ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

MIC 996 နောက်ဆက်တွဲ-ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ မဗဘ/ ဘဏ်စိစစ်/ ၄ (၂၂၅ / ၂၀၁၇)

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **De Heus Myanmar Limited သည် ၎င်း၏ရှယ်ယာရှင်ထံမှ ပြည်ပချေးငွေ အမေရိကန်ဒေါ်လာ ၇.၂၉၉၅ သန်း ရယူလိုခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၉-၂၀၁၇ ရက်စွဲပါ စာအမှတ်၊မရက-၂/ ခ-၀၀၇/၂၀၁၇(၆၉၂)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် ရည်ညွှန်းချက်ပါစာဖြင့် နယ်သာလန်နိုင်ငံ De Heus Myanmar B.V မှ ၉၉.၉၉၉၇% နှင့် De Heus Animal Nutrition B.V မှ ၀.၀၀၀၃% ဖြင့် အစုရှယ်ယာများထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် De Heus Myanmar Limited တည်ထောင်ပြီး မန္တလေးတိုင်းဒေသကြီး၊ ငါန်းဇွန်မြို့နယ်တွင် တိရစ္ဆာန်အစားအစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ရန်အတွက် De Heus Animal Nutrition B.V ထံမှ အမေရိကန်ဒေါ်လာ ၇.၂၉၉၅ သန်း ချေးယူခွင့်ပြုနိုင်ရေးအပေါ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့် စပ်လျဉ်း၍ ခွင့်ပြုနိုင်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

၂။ De Heus Myanmar Limited အနေဖြင့် အဆိုပါ ပြည်ပချေးငွေ ဝင်ရောက်လာခြင်း၊ အတိုးနှင့် အရင်းပြန်လည်ပေးဆပ်ခြင်းတို့ ဆောင်ရွက်သည့်အခါတိုင်း ဘဏ်၏ Statement များအား ပူးတွဲ၍ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၊ နိုင်ငံခြားသုံးငွေစီမံခန့်ခွဲမှုဌာနသို့ အချိန်နှင့် တစ်ပြေးညီ တင်ပြသွားရန်ဖြစ်ပါသည်။

(စိုးသိန်း)
ဒုတိယဉက္ကဋ္ဌ

မိတ္တူကို

နိုင်ငံခြားသုံးငွေစီမံခန့်ခွဲမှုဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရုံးလက်ခံ

ပူးတွဲ

De Heus Myanmar Limited

Repayment Schedule (USD)

| Particulars | Year 0 | Year 1 | Year 2 | Year 3 |
|---|---|---|---|---|
| Proceeds from loan | 7,299,500 | - | - | - |
| Repayments of loan (principal) | - | (299,500) | (3,500,000) | (3,500,000) |
| Net interest expenses | - | (235,458) | (225,797) | (112,898) |
| Total | 7,299,500 | (534,958) | 3,725,797) | (3,612,898) |